ဟာဇရသ်မောင်လာနာပီး၏ဇ္ဗလ်ဖေ့ကား၏ဆ္ဗာဟိဗ်

ဟောကြားအပ်သော

# ဂိုနာဟ် ရှောင်ကြဉ်ပြီး
# နေကာဟ် ဆောင်နှင်းပါ




ပြန်ဆိုသူ

**မွဖ်သီမုဟမ္မဒ်အာဆွင်းမ်**

နဒ်ဝီ၊အဇ္ဇလ်ဟာစနီ၊မဇ္ဇာဟေ့ရီ





مكتبة حراء لإحياء التراث الإسلامي

سلسلة المطبوعات (٩) ١٤٣٨هـ ٢٠١٧م

မော်လဝီမုဟမ္မဒ်(Al-Kausari)စီစဉ်သည်။ (ကန့်သတ်)



# လေးစားအပ်သော စာရှုသူသို့ ...

"မုဖ်သီဆပ်နားထောင်ကြည့်ပါ၊ အများအတွက်အကျိုးရှိမယ်ထင်ရင် ကျေးဇူးပြုပြီး ဘာသာပြန်ပေးပါ" ဟု ကျွန်ုပ်၏ နောင်တော် ဟာဂျီ မုဟမ္မဒ်သွလ်ဟားဆပ်က မိမိ Download ဆွဲထားသည့် ဘယန်များအား ကျွန်ုပ်ကို ပြီးခဲ့သည့် ရမ်ဇန်လက ချီးမြှင့်ခဲ့ပါသည်။

ထိုဘယန်များတွင်"အင်တာနက်၏ ဝဲဂယက်ထဲမှရုန်းထွက်နည်းများ"ကို တင်ပြထားသည့် ကျေးဇူးရှင်ဆရာသခင်ကြီး ဟဇရသ်မောင်လာနာပီးရ်ဇုလ်ဖေ့ကားရ်၏ ဟောကြားချက်တစ်ခုလည်း ပါရှိနေသည်။

လက်ရှိအင်တာနက်သုံးစွဲနေသည့် မွတ်စ်လင်မ်များအတွက် အသိပေးချက်များ၊ သတိပေးချက်များ၊ မှားယွင်းနေသော ခြေလှမ်းများကို ပြန်လည်တည့်မတ်နည်းများ၊ မိမိတို့ဘဝကိုရှုရီအသ်နည်းကျ ပြန်လည်သုံးသပ်ကာ စစ်မှန်သည့် သောဝ်ဗဟ်လုပ်နည်းများ၊ အခြားတန်ဖိုးမဖြတ်နိုင်သည့် ရင်တွင်းဖြစ် မိန့်ခွန်းချက်များပါဝင်နေပါသည်။

ထို့ကြောင့် ဘာသာပြန်သင့်သည်ဟု ယူဆပြီး စာဖတ်ပရိသတ်အတွက် ယခုကဲ့သို့ စာအုပ်ငယ်အဖြစ် တင်ဆက်လိုက်ရပါသည်။

မြန်မာ့မြေမှ အင်တာနက်သုံးစွဲသူများ နည်းလမ်းမှန်ဖြင့် သုံးစွဲနိုင်ကြပြီး မှားယွင်းနေပါကလည်း ပြန်လည်ပြုပြင်နိုင်ကြပါစေလို့ ဆုမွန်ကောင်းအပ်ပါသည်။

ဤစာအုပ်ဖြစ်မြောက်စေရန် အကျိုးအကြောင်းညီညွတ်စေတော်

မူသော အရှင်မြတ်ကိုလည်းကောင်း၊ မူရင်း video clip ကို down load လုပ်ပေးခဲ့သော ဟာဂျီမုဟမ္မဒ်သွလ်ဟားကိုလည်းကောင်း၊ Layout ပိုင်းကို တာဝန်ယူပြီး စီစစ်တည်းဖြတ်ပေးခဲ့သော ချစ်မိတ်ဆွေ ဆရာမုဟမ္မဒ် (အလ်ကောင်ဆရီ)တို့ကိုလည်းကောင်း ရင်ထဲအသည်းထဲတွင် ကျေးဇူးကမ္ဘည်း မော်ကွန်းတင်အပ်ပါသည်။

ဘာပူစမ်ပြား

နဒီဝီ၊ ဘာပွလ်ပြာစနီ၊ မဇ္ဈာဟော့ရီ

၁၂၊၁၂၊၂၀၁၇



## ဆိုရှယ်မီဒီယာတွေနဲ့ သုံးစွဲသူများရဲ့ ဒုက္ခ

ယနေ့ရေပန်းစားနေတဲ့ အချို့ဆိုရှယ်မီဒီယာတွေရဲ့ ညစ်ညမ်းမှုတွေကတော့ အားလုံးအသိပဲဖြစ်ပါတယ်။ သူ့ရဲ့ညစ်ညမ်းမှုတွေကို ပြန်လည်တင်ပြဖို့ကို ဝန်လေးရပါတယ်။ ဒီအချက်တွေ တင်ပြဖို့/မတင်ပြဖို့နဲ့ပတ်သက်ပြီး ကျွန်တော် ဆုံးဖြတ်မရဖြစ်နေခဲ့ပါသေးတယ်။ သို့ပေမယ့်လည်း ဒီထဲမှာ အံ့ဩဖွယ်ရာကောင်းတာတွေ တွေ့ရပါတယ်။ အဲဒါကတော့ "၄နာရီခြား တစ်ခါ System ပေါ်မှာ ဝတ်လစ်စလစ်ဓါတ်ပုံတွေ Upload လုပ်နေပါတယ်။ အင်တာနက်ပေါ်မှာ မကောင်းတဲ့ဇာတ်ကားတွေ ကြည့်သူအများအနက်၃၅%ရာခိုင်နှုန်းဟာ အမျိုးသမီးတွေဖြစ်ကြပါတယ်။ နေ့စဉ်လိုင်းပေါ်တက်နေတဲ့ Emailတွေအနက် 2.5 billion(သန်းပေါင်းတစ်သန်းခန့်ဟာ)Sex နဲ့ပတ်သက်တာတွေဖြစ်နေပါတယ်။ အခြားနိုင်ငံများမှာ ၅၆%ရာခိုင်နှုန်း လင်မယားကွာရှင်းပြတ်စဲနေရတဲ့ အဓိကအကြောင်းခံကတော့ လင်၊မယားနှစ်ဦးအနက်တစ်ဦးဦးက မကောင်းတဲ့ ဇာတ်ကားတွေကြည့်တဲ့အတွက်ကြောင့်ဖြစ်နေရတယ်။ မကောင်းတဲ့ ဇာတ်ကားတွေကြည့်ပြီး ကိုယ့်ဘဝကြင်ဖော်နဲ့ မတင်းတိမ်နိုင်တဲ့ အခြေအနေဖြစ်နေတယ်။ ဒါ့ကြောင့် သူတို့ရဲ့ဘဝတွေမှာ ပြဿနာပေါင်း သောင်းခြောက်ထောင် တက်နေပါတော့တယ်။

## နားလည်ထားသင့်တဲ့ Stages (၃)ခု

လူငယ်တိုင်းဟာ ဝတ်လစ်စလစ်ဇာတ်ကားတွေကို မကောင်းဘူးလို့မှတ်ယူကြပါတယ်။ ဒါပေမယ့်လည်း ဒီလိုဇာတ်ကားမျိုးတွေ ကြည့်တဲ့ အကျင့်လုပ်လိုက်ကြတယ်။ အရက်လိုပဲ မကောင်းတဲ့ ဇာတ်ကားတွေဟာလည်း ဖြတ်ရခက်ပြီး ယစ်မူးရူးသွပ်စေတဲ့ မူးယစ်ဆေးတစ်မျိုးနဲ့တူပါတယ်။

ထပ်ပြီး မကောင်းတဲ့ ဇာတ်ကားတွေကြည့်သူတွေထဲမှာ ခြေလှမ်း (၃)ခုကို အဆင့်ဆင့်တိုးလာတာ တွေ့ရတယ်။

### ပထမအဆင့်

မကောင်းတဲ့ဇာတ်ကား တွေကြည့်လာသူဟာ မကောင်းတာကို မကောင်းလို့မမြင်တတ်တော့ပါဘူး။ အစပိုင်း နေ့ရက်တွေမှာတော့ ကိုယ့်ကိုယ်ကို အပြစ်တင်မိမယ်။ နောက်ပိုင်းတော့ အကျင့်ဖြစ်သွားရင်း မကောင်းလို့မမှတ်ယူနိုင်တော့ဘူး။

### ဒုတိယအဆင့်

acceptance (ကြိုဆိုလက်ခံခြင်း)ဒုတိယခြေလှမ်းအနေနဲ့ လူသားဟာ ဒီစက်ဆုပ်ဖွယ်ရာကိုကြိုဆိုလက်ခံခြင်းမျိုး ပြုလာတော့တယ်။

### တတိယအဆင့်

လူသားဟာ ဒီဂိုနာကို ဘဝရဲ့ အစိတ်အပိုင်းတစ်ခုလို့ သတ်မှတ်လာတယ်။ ဒီအစိတ်အပိုင်းမရှိရင် ရှင်သန်ရပ်တည်ဖို့ပါ ခက်ခဲတယ်လို့ မှတ်ယူလာတော့တယ်။

ဒီနေ့ မီဒီယာတွေကနေတဆင့် လူတွေရဲ့ ဦးနှောက်တွေကို ဖျက်ဆီးခံနေရတယ်။ ဒါ့ကြောင့်လည်း လူတွေရဲ့ ဘ၀မှာ ဒုက္ခသုက္ခတွေ၊ မပြေလည်မှုတွေဟာ နေရာယူနေတာဖြစ်တယ်။

**အင်တာနက်သုံးစွဲခြင်းအတွက် အစ္စလာမ့်လမ်းညွှန်ချက်**

အစ္စလာမ့်တရားတော်မြတ်က အစကတည်းက ဒီလိုစက်ဆုပ်ဖွယ်ရာတွေက ရှောင်ရှားဖို့ကျွန်ုပ်တို့ကိုလမ်းပြပေးခဲ့ပါတယ်။ ဒါ့ကြောင့် အရှင့်လမ်းပေါ်၊အရှင့်သာသနာတော်ပေါ်မှာ လျှောက်လှမ်းလိုသူတွေဟာ အင်တာနက်အသုံးပြုခြင်းကို မိမိတို့ရဲ့ ရန်သူအဖြစ် သတ်မှတ်ထားရမယ်။ လူတိုင်းအတွက် အင်တာနက်သုံးခြင်းဟာ ဟရာမ်လို့တော့ ကျွန်ုပ်မဆိုလိုပါဘူး။ တချို့စီးပွားရေးလိုအပ်ချက်တွေကြောင့် သုံးစွဲနေတာတွေလည်းရှိပါတယ်။ ဒီတော့ ပိုင်တဲ့အရာတွေအတွက် အသုံးပြုခြင်းဟာလည်း ပိုင်ပါတယ်။ မပိုင်တဲ့ လုပ်ရပ်တွေအတွက် အသုံးပြုရင်တော့ မပိုင်တော့ဘူးပေ့ါ။ ဒါပေမယ့်လည်း အများအားဖြင့် မပိုင်တဲ့နည်းလမ်းတွေနဲ့ မပိုင်တဲ့အရာတွေအတွက် သုံးစွဲနေတာကို တွေ့နေရပါတယ်။ ဒီဝဲဂယက်ထဲကနေ ရုန်းထွက်နိုင်ဖို့၊ ဒီမပိုင်တဲ့ နည်းလမ်းတွေနဲ့ သုံးစွဲနေခြင်းကနေ ရှောင်ရှားဖို့ ကြိုးစားရပါမယ်။

**Facebook နဲ့ ယနေ့ခေတ်လူငယ်များ**

Facebook နဲ့ ပတ်သက်ပြီး(ယနေ့ခေတ်လူငယ်တွေသုံးစွဲပုံတွေကို ကြည့်ပြီး)သုံးပိုင်တယ်လို့ ဖသ်ဝါပေးဖို့တောင် ခက်ခဲနေပြီ။ ဘာကြောင့်လည်းဆိုတော့ ဒီကိစ္စတွေကို ထဲထဲဝင်ဝင်သိသူတစ်ယောက်က

ကျွန်တော့်ကို ပြောဖူးပါတယ်။ Facebook ကြည့်ဖို့ဖွင့်လိုက်တာနဲ့ ငါးမိနစ်လောက်အတွင်းမှာ screenပေါ် သူစိမ်းအမျိုးသမီးတစ် ဦးဦးရဲ့ပုံတက်လာပါတယ်။ ငါးမိနစ်လောက်အတွင်းမှာပဲ သူစိမ်းအမျိုးသမီးပုံကို ကြည့်ဖြစ်သွားမှာ ဆိုတော့ ဒီအချက်ကို ပိုင်တယ်လို့ ဖယ်ဝါပေးဖို့ အရမ်းခက်သွားပြီ။ ဒါ့ကြောင့် Facebook ကြည့်ဖို့ဖွင့်လိုက်တာကိုက ဟရာမ်ဖြစ်စေမယ့် တံခါးကို ဖွင့်လိုက်သလိုပါပဲ။

## Porn ညစ်ညမ်းရုပ်ရှင်တွေမှ ရှန်းထွက်လွတ်မြောက်ဖို့

ဒါကြောင့် အရှင်မြတ်နဲ့ နီးကပ်မှုကိုရယူလိုသူတွေဟာ မီဒီယာရဲ့ ဒီညစ်ညမ်းတဲ့ ပုံရိပ်တွေကနေ ရှောင်နိုင်ဖို့ကြိုးစားရမယ်။ ဒီညစ်ညမ်းမှုတွေ ဘဝမှာရှိနေလို့ မတိုးတက်နေတာလည်း ဖြစ်နိုင်ပါတယ်။ ကိုယ်က ရှေ့တိုတိုးတက်ဖို့ ခြေလှမ်းတိုင်း ဒီညစ်ညမ်းမှုတွေနဲ့ ခြေကရစ်ပတ်နေတာမျိုးတွေဖြစ်နေမယ်။ ဒီလိုမကောင်းမှုမှာ ချုပ်နှောင်ရစ်ပတ်ခံရခြင်းကနေ အရှင်မြတ် ကျွန်ုပ်တို့ကို ကယ်တင်ပေးသနားတော်မူပါ။ ဒီအချက်တွေကြောင့် ရရှိလာမယ့် သေချာတဲ့ ရလဒ်တွေကတော့ လင်မယားကွဲမယ်၊ အိမ်ထောင်ရေးအဆင်မပြေမှုတွေဖြစ်လာမယ်။ ဒီလိုမျိုး ဥကွဲသိုက်ပျက်တဲ့ဒဏ်တွေကို မခံစားနိုင်တော့တဲ့ အဆုံးမှာ ကိုယ့်ကိုယ်အဆုံးစီရင်ပစ်တာမျိုးတွေဖြစ်လာတော့တယ်။

## နှလုံးရည်ကြည်မြှင့်တင်ပါ

မကောင်းတဲ့ ဇာတ်ကားတွေကြည့်တဲ့ အကျင့်ဖြစ်နေသူတွေ အတွက် တန်ဖိုးမဖြတ်နိုင်တဲ့ ဆုံးမစကားတစ်ချို့ လက်ဆောင်ပေးလိုပါ

တယ်။ ဂရုတစိုက် နားသောတဆင်ပေးပါ။ အသုံးဝင်ပါလိမ့်မယ်။

ဒီဝဲဂယက်ထဲမှာ ကျရောက်နေသူတွေဟာ မိမိတို့ရဲ့ စိတ်စွမ်းရည်၊ နှလုံးရည် တွေကို မြှင့်တင်ရမယ်။ နှလုံးရည်မြင့်မားနေရင်တော့ လူသားဟာ လိုအပ်ချက်အရ အင်တာနက်တော့သုံးပါမယ်။ ဒါပေမယ့် ညစ်ညမ်း website တွေဆီ မသွားတော့ဘူး။ နှလုံးရည်၊ စိတ်စွမ်းရည်တွေလျော့ရဲနေမယ်၊ အားနည်းနေမယ်ဆိုရင်တော့ လူသားဟာ ညစ်ညမ်း website တွေရဲ့ ဝဲဂယက်ထဲမှာ အလိုလိုကျရောက်သွားနိုင်ပါတယ်။

ဒါ့ကြောင့်နှလုံးရည်တွေမြင့်မားလာစေဖို့အတွက် အရှင်မြတ်ကို များစွာသတိရနေပါ။ ပြီးတော့ နှလုံးရည်ပြည့်ဝနေတဲ့ အလ္လာဟ့်အချစ်တော်တွေထံ ချဉ်းကပ်ပြီး မိမိရဲ့စိတ်စွမ်းရည်၊ နှလုံးရည်တွေကို မြင့်မားအောင်လုပ်နေပါ။

နေ့စဉ်ပုံမှန် လေ့ကျင့်ခန်းလုပ်နေရင်လည်း စိတ္တစွမ်းရည်တွေပြည့်လာတယ်။ ညဥ့်မှာ သင့်တင့်လျောက်ပတ်စွာ အိပ်စက်အနားယူသူတွေဟာ ကျန်းမာရေးကောင်းမွန်တယ်ဆိုတာလည်း အားလုံးအသိပဲဖြစ်တယ်။ တချို့ကလည်း ရိုဇာထားကြတယ်။ ရိုဇာထားခြင်းကြောင့်လည်း နှလုံးရည်တွေပြည့်ဝလာမယ်။ လောကနဲ့ အဆက်အသွယ် ခဏဖြတ်တောက်ပြီး အလ္လာဟ်အရှင်မြတ်ရဲ့ ကျေးဇူးတော်တွေ၊ မိမိဘဝဖြစ်စဉ် တွေနဲ့ပတ်သက်ပြီး စဉ်းစားခန်းဝင်နေခြင်းဖြင့်လည်း နှလုံးရည်တွေတိုးမြင့်လာနိုင်ပါတယ်။

**အလ္လာဟ်အရှင်ကတော့ မြင်နေတယ်**

မှတ်သားထားရမယ့် ပွိုင့်တစ်ခုကတော့ ဒီပြစ်မှုတွေကျူးလွန်နေသူတွေဟာ ကိုယ့်အပြစ်ကို ဝန်ခံပါ "ဘယ်သူမပြု မိမိမှုပါ"။ ငါ့ထဲမှာ ဒီမကောင်းမှုကြီးရှိနေတယ်လို့ မှတ်ယူထားလိုက်ပါ။ "ငါ့ဇနီးက ငါ့ကို ကောင်းကောင်းမဆက်ဆံလို့၊ ငါ့ကို ဂရုမစိုက်လို့ ငါဒီညစ်ညမ်းပုံတွေ ကြည့်နေရတာ"လို့ အဖြေမညှိလိုက်ပါနဲ့။ ငါ့အမှားလို့သာ လက်ခံလိုက်ပါ။ ကိုယ်ကောင်း ခေါင်းဘယ်မှမရွေ့လို့ မှတ်ယူထားမှသာ ပြုပြင်လို့ရမှာပါ။

အားလုံးသောမကောင်းမှုတွေကနေ ရှောင်ရှားဖို့အတွက်အလ္လာဟ်အရှင်မြတ်ကို ကြောက်နေဖို့၊ အရှင်မြတ်ကြည့်ရှုနေကြောင်းကို ယုံနေဖို့လိုအပ်ပါတယ်။ ကျွန်တော်က ဖုန်း screen ကို ကြည့်နေတဲ့အချိန်မှာ အလ္လာဟ်အရှင်မြတ်ကလည်း ကျွန်တော့်ကို ကြည့်နေတယ်ဆိုတာ နှလုံးသွင်းထားရမယ်။

ပြီးတော့ ကြည့်နေကျ ညစ်ညမ်းဗီဒီယိုတွေ၊ အော်ဒီယိုတွေ၊ ဖိုတိုတွေကို ချက်ချင်း ဖျက်ပစ်လိုက်ရမယ်။ ကွန်ပြူတာတွေ၊ laptop တွေ အသုံးပြုရင်လည်း အများနဲ့အတူသုံးပါ။ အခန်းပိတ်ပြီး တစ်ယောက်တည်း မသုံးပါနဲ့။ လူစုလူဝေးနဲ့ နေထိုင်တဲ့အကျင့်လည်း လုပ်ဖို့လိုအပ်သလို ဒီလိုလူစုလူဝေးနဲ့ နေနိုင်အောင်လည်း ကြိုးစားရမယ်။

တကယ်တော့ ရာဂစိတ်ရဲ့အရှိန်အဟုန်ပြင်းထန်မှုဟာခေတ္တခနလေးပါပဲ။ ဒါကြောင့်လူသားဟာ အရှင်မြတ်ကိုကြောက်ပြီး ဒီမကောင်း

မှုကို စွန့်လွှတ်လိုက်မှ အရှင်မြတ်ကလည်း သူ့ကို ဒီဒုက္ခ ဝဲဂယက်ထဲ ကနေ ကယ်တင်တော်မူလိမ့်မယ်။

ခါဂျာမဂျ်ဇူးဗ် သခင်က အမိန့်ရှိတယ်။ ရာဂစိတ်အဟုန်ပြင်း ထန်လာမယ်ဆိုရင် သူ့ကိုထိန်းချုပ်လိုက်ပါ။ မဟုတ်လို့ကတော့ သူဟာ အသွေးအသားထဲစိမ့်ဝင်သွားလိမ့်မယ်။ ဒါ့ကြောင့် စိတ်အတွေးအာရုံ ကို ရာဂဘက်မှ လွှဲဖယ်လိုက်ပါ။ တက်လာတဲ့ မြစ်ရေဟာ တမဟုတ် ချင်း ပြန်ကျသွားမှာပါ။

စိတ်ရိုင်းကို အနိုင်လုံချဖို့ အမြဲကြိုးစားနေပါ။ အကြိမ်(၁၀၀) ကြိုး ပမ်းပေးမယ့်လည်းမအောင်မြင်နိုင်သေးရင် ဖွဲမလျှော့လိုက်ပါနဲ့။ သူ့ကို အလဲထိုးနိုင်လိုက်လို့လည်း အောင်လံလွှင့်ထူခြင်းမှာပဲ နစ်မျောမသွား မိစေနဲ့။ တစ်ကျော့ပြန်စစ်ခင်းတတ်တယ်ဆိုတာကို သတိရှိနေပါ။

**အရေးပါတဲ့ အချက်(၃)ချက်**

အခု ရာဂစိတ်ကို ကုစားဖို့အလွန်ရေးပါလှတဲ့ ပွိုင့်အချက်တွေကို နိဂုံးအနေနဲ့ သေချာမှတ်သားထားလိုက်ပါ။

အရှင်မြတ်က လူသားတိုင်းအတွက် ရိုဇီရိက္ခာကို သတ်မှတ်ထား ပြီးသားပါ။

﴿وإن من شئ إلا عندنا خزائنه، وماننزله إلا بقدر معلوم﴾

စင်စစ်သော်ကား မည်သည့်အရာမျိုးမဆို ငါအရှင်မြတ်ထံတော်၌ ထိုအရာဝတ္ထု၏ အစုအပုံများ(ဘဏ္ဍာတော်များ)သည် (အပြည့်)ရှိပေ သည်။ သို့ရာတွင် ငါအရှင်မြတ်သည် ထိုအရာဝတ္ထုကို သတ်မှတ်ထား





သော အတိုင်းအတာအချိန်အဆနှင့်အညီသာလျှင် ချပေးတော်မူပေသတည်း။ (၁၅း၂၁)

လောကမှာကျွန်ုပ်တို့ ထမင်းဘယ်နှလုပ် စားသွားရမယ်ဆိုတာ သတ်မှတ်ထားပြီးသားပါ။ ရေဘယ်နှပေါက်သောက်ရမယ် ဆိုတာလည်း သတ်မှတ်ပြီးဖြစ်ပါတယ်။ ကျွန်ုပ်တို့အတွက် သတ်မှတ်ထားတဲ့ ရေပေါက်လေးတစ်ပေါက်ပင်မဆို မသောက်ရသေးသရွေ့ ကျွန်ုပ်တို့ ကွယ်လွန်ရမှာမဟုတ်ပါဘူး။ ဒါ့ကြောင့်တစ်ချို့လူတွေ ရေသောက်ပြီး ခွက်ချရုံပဲရှိသေးတယ်။ သူတို့ရဲ့ သေခြင်းတရားဆိုက် ရောက်လာတော့တယ်။ ပိုလျှံနေတဲ့ရေဆိုတာ သူတို့အတွက် သတ်မှတ်ထားတာ မဟုတ်လေတော့ သောက်မသွားရတော့ဘူးပေါ့။ ဒီလိုပဲ တစ်ချို့မုန့်စားနေရင်းနဲ့ ကွယ်လွန်သွားတယ်။ သူ့အတွက် သတ်မှတ်ထားတာကုန်သွားတော့ ဆက်ပြီးစားမရနိုင်တော့တာပေါ့။

ကျွန်တော်တို့ဘ၀မှာ ရာဂစိတ်တွေပြေစေဖို့ နေကာဟ်ရဲ့စည်းစိမ်ကို အရှင်မြတ်က သတ်မှတ်ထားပါတယ်။ ဒီစည်းစိမ်ဟာလည်း သတ်မှတ်ထားတဲ့ ရိဇ္ဇ်ကလိုပဲ ကျွန်ုပ်တို့မုချ အဲ့ဒီစည်းစိမ်ကို ခံစားရမှာပါ။ ဒီစည်းစိမ်ကို ရှရီအသ်နည်းကျ အသုံးချမယ်ဆိုရင်တော့ နေကာဟ်ရဲ့ အရသာကို ကျွန်ုပ်တို့ခံစားကြရလိမ့်မယ်။ ဒီစည်းစိမ်ကို စောလျင်စွာကြုံပြီးရယူလိုတဲ့အတွက်ကြောင့် ဇေနာရဲ့နည်းလမ်းကိုရွေးချယ်မယ်ဆိုရင်လည်း ရာဂတော့ပြေပျောက်သွားနိုင်ပေမယ့် နောက်ဆက်တွဲ ဂိုနာတွေကိုတော့ ကျွန်တော်ရသွားပြီပေါ့။

**အကြွေခေါသော ပန်းမဖြစ်ပါနဲ့**

ဒါ့ကြောင့် လူပျို၊ အပျိုလေးတွေ နေကာဟ်မတိုင်ခင် ဇေနာမှာ နစ်မွန်းတော့မယ်ဆိုရင် တစ်ချက်စဉ်းစားလိုက်ပါ။ ငါတို့ဟာ ငါတို့ရမယ့် စည်းစိမ်ဝေစုကို အချိန်မတိုင်ခင် မှားတဲ့နည်းလမ်းနဲ့ ယူနေရပါလား။ ရာဂစည်းစိမ်ကို ဂိုနာနဲ့လဲနေသလား။ အကြွေခေါသွားတော့ နောက်ဆက်တွဲ ဘာဆိုးကျိုးတွေဖြစ်လာနိုင်သလဲဆိုတာကိုလည်း ဆက်လက် စဉ်းစားကြည့်ပါစို့. . .။

အချိန်မတိုင်ခင် မိမိရဲ့ ရာဂစည်းစိမ်တွေကို ဖြုန်းတီးခဲ့တော့ တကယ်နေကာဟ်ဖြစ်ပြီးတဲ့နောက် လက်တွေ့ဘဝမှာ မိမိရဲ့ ဘဝကြင်ဖော်ကို သူမျှော်လင့်ထားသလို ကြေနပ်မှုတွေမပေးနိုင်တော့ဘူး။ ဒီက နေပဲ အိမ်ထောင်ရေး ပြဿနာတွေစတော့တယ်။ ဇနီးတွေက ခင်ပွန်းတွေရှေ့မှာ ဒေါသပြလာတယ်။ ခင်ပွန်းတွေကလည်း သည်းမခံနိုင်တော့တဲ့အဆုံး ပြဿနာတွေပဲ ရလဒ်အဖြစ်တွေ့လာရတယ်။

မိမိရဲ့ခင်ပွန်းနဲ့ အိမ်ထောင်ရေးသုခ မပြည့်ဝတဲ့ ဇနီးသည်ဟာလည်း ဂိုနာရဲ့လမ်းကြောင်းကိုရွေးချယ်တော့မှာပေါ့။ ဒါ့ကြောင့် နေကာဟ်ပြီးတဲ့အခါ မိမိတို့ရဲ့ ဇနီးကြင်ဖော်တွေ ဂိုနာရဲ့လမ်းကြောင်းကို မရွေးချယ်စေဖို့ အမြဲကြိုးပမ်းနေပါ။

**သားသမီးတွေပေးဆပ်ရမယ့် ဇေနာကြွေး**

အေမာမ် ရှာဖေ့အီ ﷺ သခင်ကြီးမိန့်တော်မူခဲ့တယ်။ "ဇေနာဆိုတာ သေစားသေစေစနစ်လိုပဲ။ ဒီနေ့ကျူးလွန်တော်ပြုလိုက်တဲ့ ဇေနာကို အိမ်က

ကျွန်တော့်ရဲ့ သွေးရင်းချာထဲက အမျိုးသမီးတစ်ဦးက ဆပ်ပေးရလိမ့်မယ်။" မိခင်ကဇေနာလုပ်နေတယ်ဆိုရင် အဲ့ဒီမိခင်ဟာ စဉ်းစားရမယ်။ "ငါ့အကုသိုလ်ရဲ့ အကျိုးဆက်ကို ငါ့သမီးလေးကခံစားရမလား။" ခင်ပွန်းက တခြားအမျိုးသမီးနဲ့ဇေနာလုပ်နေတယ်ဆိုရင် "ငါ့ဒီဇေနာရဲ့ အကြွေးကို ငါ့ဇနီး(သို့) ငါ့သမီးလေးများဆပ်နေရမလား"လို့ စဉ်းစားလိုက်ပါ။

ဟဒီးဆ်တော်တစ်ရပ်မှာ လာရှိပါတယ်။ "အသင်တို့တခြားသူတွေရဲ့ သားမယားတွေကို ဣန္ဒြေသိက္ခာရှိစွာနဲ့ ဆက်ဆံရင် အသင်တို့ သားမယားတွေရဲ့ ဣန္ဒြေသိက္ခာကိုလည်း အခြားသူတွေက လေးစားစောင့်ထိန်းလိမ့်မယ်။"

ဒါ့ကြောင့် ပညာရှင်တွေက မိန့်ကြပါတယ်။ "လူတစ်ယောက်ဟာ ဇေနာလုပ်လိုက်ရင် သူ့အိမ်မှာလည်း တစ်နေ့ မုချ ဇေနာအမှု ဖြစ်ပေါ်လိမ့်မယ်။ ယုတ်စွအဆုံး အိမ်ကအမျိုးသမီးတွေမှာ ဇေနာအမှု မဖြစ်ရင်တောင် အိမ်ရဲ့ နံရံတွေနဲ့ ဇေနာလာလုပ်ကြလိမ့်မယ်။ ဇေနာရဲ့ တန်ပြန်ခါးသီးတဲ့ အရသာကို ခံစားရမှာသေချာတဲ့သဘောပါပဲ။"

ကျွန်တော့်ရဲ့ရင်နှင့်သည်းခြာ သားသမီးရတနာတွေ ပေးဆပ်ရမယ့် ဒီအကုသိုလ်ကို ဘာကြောင့်ကျူးလွန်မလဲ။ ကျွန်တော်တို့ရဲ့ အိမ်တွေမှာ ဒီဂိုနာတွေရောက်ရှိလာမှာ။ ဒါ့ကြောင့် ကိုယ့်ကိုယ်ကို ဒီဂိုနာဟ်ကနေ ရှောင်နိုင်အောင်ကြိုးစားပါ။ ရှရီအသ်က ခွင့်ပြုထားတဲ့ အလုပ်ကိုသာ လုပ်ကြပါ။

"ဒီလုပ်ရပ်ကြောင့် အလ္လာဟ်အရှင်မြတ် စိတ်ဆိုးတော်မူတယ်၊




ငါ့ရဲ့ သားသမီးတွေဟာ ဒီလုပ်ရပ်ဆိုးအတွက် ပေးဆပ်မှုတွေပြုလုပ်ကြရလိမ့်မယ်"ဆိုတဲ့ ကြောက်စိတ်မရှိသရွေ့တော့ ဒီလုပ်ရပ်ကနေ ရှောင်နိုင်ဖို့ ခက်မယ်။

ဒါ့ကြောင့် စိတ်ဝယ်အမြဲစွဲနေရမယ့်အချက်က ကာမစည်းစိမ်ကို ကျွန်ုပ်တို့ဟာ သတ်မှတ်ထားသလောက်တော့ ခံစားကြရမှာပါ။ ဒါပေမယ့် အချိန်မတိုင်ခင် ရှရီအသ်နဲ့ဆန့်ကျင်ပြီး ရယူဖို့ကြိုးစားရင်တော့ မှားသွားမယ်။ ပမာပြောရရင် အလုပ်သမားတစ်ယောက်ဟာ လုပ်ခကို ပိုင်ရှင်က မရှင်းပေးခင် ခိုးယူလိုက်သလိုပါပဲ။ ဘယ်သူမှ ဒီလိုလုပ်ခ သူခိုးမျိုးကို ဉာဏ်ကြီးရှင်လို့ပြောမှာမဟုတ်တဲ့အပြင် အားလုံးက ဝိုင်းပြီး အပြစ်တင်ကြမယ်။ "ဟဲ့ ငတုံး နှစ်ရက်သုံးရက်လောက်စောင့်တော့ ဘာဖြစ်မှာလဲ မင်းလစာအကုန်ရသွားမှာပေါ့။ အခုတော့ မင်းက အချိန်မတိုင်ခင် ခိုးယူလိုက်တဲ့အတွက် ပိုင်ရှင်ရဲ့ထံမှာ ဒုစရိုက်ကောင်ဖြစ်သွားရပြီမဟုတ်လား။"

ဒီစည်းစိမ်ဟာ မုချရကိုရမှာပါ။ အချိန်မတိုင်ခင် ဒီစည်းစိမ်ကို ရယူမိသွားရင်တော့ အလ္လာဟ်အရှင်မြတ်ရှေ့မှောက်မှာလည်း ကျွန်တော်တို့ဟာ အပြစ်ကျူးလွန်သူတွေ စာရင်းဝင်သွားမှာပါ။

နောက်တစ်ချက်က ဒီဂိုနာအတွက် သားသမီးတွေက ပေးဆပ်မှုတွေလုပ်ရမယ်ဆိုတာကိုလည်း ယုံကြည်ထားရမယ်။

တတိယအချက်ကတော့ ဒီလို ကာမကျူးလွန်မှုတွေကို အလ္လာဟ်အရှင်မြတ်လုံးဝမနှစ်သက်ဘူး။ ولا تقربوا الزنى "အသင်တို့ ဇေနာအနားကို မကပ်ကြလေနှင့်"လို့ အမိန့်ရှိထားပါတယ်။ ဇေနာမလုပ်နဲ့

လို့ ရှီးရှီးမိန့်ထားတာမဟုတ်ဘူးနော်။ ဇေနာနားကိုတောင် မသွားနဲ့လို့ မိန့်ထားတာ။ ဆိုလိုတာက ဇေနာရဲ့ နိဒါန်းလုပ်ရပ်တွေကနေပါ ရှောင်ခိုင်းတာပါ။ စကားပြောလိုက်တာ၊ ကြည့်လိုက်တာတွေဟာ ဇေနာရဲ့ နိဒါန်းလုပ်ရပ်တွေပါပဲ။ "ဇေနာအစ မျက်စိကလို့" ပြောစမှတ်ပြုကြတယ် မဟုတ်လား။ ဒါ့ကြောင့် ဒီဂိုနာတွေကနေ ရှောင်ဖို့လည်း ကြိုးစားရင်း မိမိတို့ကိုယ်ကို ဖြူစင်သန့်ရှင်း အပြစ်ကင်းအောင်ထားကြပါ။ ဇေနာရဲ့ အမည်းစက်မထင်အောင် ထိန်းသိမ်းကြပါ။

ကျွန်တော့်ရဲ့ ရှိုင်ခ် ိ သခင်က အကြောင်းအရာတစ်ခုပြောပြဖူးတယ်။ အဲ့ဒီအကြောင်းအရာဟာ تلبيس ابليس ကျမ်းမှာလည်း ဖော်ပြထားတယ်။ ကုရ်အာန်ကျမ်းတော်မြတ် အာဂုံဆောင်ထားသူတစ်ဦးရှိတယ်။ သူဟာ နုနုနယ်နယ်ကလေးငယ်တစ်ယောက်ကို မကောင်းတဲ့ အကြည့်နဲ့ကြည့်နေတယ်။ သူ့ဆရာက"မင်းဘာလို့ ဒီလို ကြည့်တာလဲ" လို့ မေးတော့ သူက"ကျွန်တော် သဘောရိုးနဲ့ ကြည့်နေတာပါ။"လို့လိမ်တယ်။ "ဒီလိုရုပ်မျိုးတွေကို အလ္လာဟ်အရှင်မြတ် ဂျဟန္နမ်ထဲ ထည့်ပါစေ"လို့တောင် ပြောလိုက်သေးတယ်။ နှစ်(၂၀) ခန့်ကြာပြီးနောက် ဒီလူနဲ့ ပြန်တွေ့တဲ့အချိန်မှာ သူဟာ ကုရ်အာန်တစ်အုပ်လုံးကို မေ့သွားပြီဖြစ်ကြောင်းသိလိုက်ရတယ်။ ဒီစကားကိုဆရာ့ဘယန်မှာ ကြားလိုက်ရတော့ ကျွန်တော် အတော်လေးကို စိတ်မကောင်းဖြစ်သွားတယ်။ ဘယန်အပြီး ထမင်းဝိုင်းမှာ ကျွန်တော်ဆရာ့ကို လျှောက်တင်တယ်။ "အို-ဆရာကြီး၊ ကျွန်တော် ကတော့ အသိဉာဏ်နည်းပါးသူဖြစ်တယ်။ ဒါ့ကြောင့် တချို့စကားတွေ ကျွန်တော် နားမလည်နိုင်ဘူးဖြစ်နေတယ်။

ဆရာခွင့်ပြုမယ်ဆို ကျွန်တော် မေးခွန်းတစ်ချို့မေးပါရစေ။” ဒီတော့ ဆရာက “မေးလိုတာ မေးနိုင်ပါတယ်”လို့ ခွင့်ပေးတယ်။ “ဆရာ၊ လူတစ်ယောက်ဟာ မျက်လွှာတစ်ချက်လေး မထိန်းလိုက်တဲ့အတွက် ကျမ်းမြတ်ကုရ်အာန် မေ့သွားလောက်တဲ့ထိ အပြစ်ပေးခံရပါသလား။” ဆရာက မိန့်တယ်။ “ဟုတ်တယ်။ ဘာကြောင့်လည်းဆိုတော့ ဒီကိစ္စဟာ အလ္လာဟ်အရှင်မြတ်ရဲ့ သန့်ပြန့်စင်ကြယ်မှုပေါ် အထိအခိုက်မခံစေလိုခြင်းနဲ့ဆိုင်တယ်။” ကျွန်တော်က “အို-ဆရာ၊ ထပ်ပြီး အလင်းပြပေးပါအုံး” လို့ မေးမြန်းလိုက်ပြန်တယ်။ ဒီတော့ ဆရာက ပြောတယ်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူတယ်။ “ငါဟာ လူတွေထဲမှာ အရှက်အကြောက်ကြီးသူဖြစ်တယ်။ အရှင်မြတ်က ငါ့ထက်ပိုပြီးတော့ ဒီကိစ္စမှာ အထိအခိုက်အဖြစ်မခံဘူး။ လူသားဟာ အရှင်မြတ်ရဲ့အမိန့်တော်တွေကို ဆန့်ကျင်ပြီး အခြားသူ/အရာတွေကို အရှင်မြတ်တားမြစ်ထားတဲ့ပုံစံနဲ့ချစ်တာ၊ နှစ်သက်တာတွေကို အရှင်မြတ်မကြိုက်ဘူး။ ဒါ့ကြောင့် အလ္လာဟ်အရှင်မြတ်က ဒီကိစ္စမှာ အထိအခိုက်ဖြစ်တာကို လုံးဝမနှစ်သက်ဘူး။ “ငါ့ရဲ့ ကျေးကျွန်ဟာ ငါ့အမိန့်ကိုနာခံရမယ့်အစား အခြားသူကို မပိုင်တဲ့နည်းလမ်းနဲ့ ချစ်ဖို့ကြိုးစားနေတယ်။”လို့အရှင်မြတ်က သတ်မှတ်တော်မူတယ်။ ဒီလိုမျိုး အချစ်မှားမှုတွေကြောင့် ကုရ်အာန်မပြောနဲ့ အီမာန်တောင် ဆုံးရှုံးသွားနိုင်တယ်။

ဒါ့ကြောင့် တစ်ချို့လူတွေ ချစ်သူ၊ ရည်းစားတွေဆီ I Love You ရေးပို့ကြတယ်။ (၃)လုံး ထဲပဲ။ ဒါပေမယ့်မရေးခင် စဉ်းစားသင့်ပါတယ်။ “ငါဒီ စာလုံး(၃)လုံးကို တခြားသူထံ message မပို့မီ အလ္လာဟ်အရှင်




မြတ်က မိမိထံမှာ I don't love this person လို့ မရေးပါစေနဲ့။ “ဒီလူဟာ ငါအရှင်ကိုမချစ်ဘူး၊ တခြားမချစ်ပိုင်တဲ့သူကိုချစ်နေတယ်” ဆိုတဲ့ ပုဒ်မကြောင့် ငါ့အချစ်တော်တွေရဲ့ စာရင်းထဲကထုတ်ပစ်လိုက်လို့ အလ္လာဟ်အရှင်မြတ် မမိန့်ပါစေနဲ့။

ဒါ့ကြောင့် ရှရီအသ်ကခွင့်ပြုထားတဲ့ စကားတွေကိုပဲ ပြောကြပါ။ အထက်မှာ ဖော်ပြထားတဲ့ အချက်တွေကနေရှောင်ကြပြီး။ ပြုခဲ့သမျှ အပေါ် သောဝ်ဗဟ်လုပ်နိုင်ကြပါစေ။ (အာမီးန်)

မှတ်ချက်။ ။ အစ္စလာမ်သာသနာတော်တွင် နေကာဟ်မလုပ်မီ ချစ်သူ၊ ရည်းစား ထားခြင်းမပြုပိုင်ပါ။ မိမိ၏ မိဘ၊ ဇနီး၊ ခင်ပွန်း၊ သားသမီးများ၊ ညီအစ်ကိုမောင်နှမများအား ချစ်ခြင်းကိုမူ အလ္လာဟ်အရှင်မြတ်သည် ခွင့်ပြုထားရုံမက အကျိုးစပါးဗ် ချီးမြှင့်မည့်အကြောင်း မိန့်ကြားထားပေသည်။



ဘာဗူစဓာဟား
နဒ်ဝီ၊ ဘာဗွလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ
၁၂၊၁၂၊၂၀၁၇

